




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၉၀၈....... / ၂၀ ၁၃ ။ ၂၀၁၃ ခုနှစ်၊ မေ လ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ....ဦးသူရိန်အောင်....

(ခ) အဘ အမည် ....ဦးဝင်းအောင်....

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ....၁၂ /ကမရ(နိုင်) ၀၅၀၈၃၉....

(ဃ) နေရပ်လိပ်စာ ....အမှတ်(၁၀၅)၊ တက္ကသိုလ်ရိပ်သာလမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။....

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ....**Thuriya Energy Depot Management Co., Ltd.**....

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ....**B.O.T** စနစ်ဖြင့် မြေငှါးရမ်း၍ ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း....

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ....မြေကွက်အမှတ်၊ ၁၇/၁၈(စီ)၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေ(၂၄.၇၁)ဧက....

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၁၇၇၇၂.၉၃ (သန်း)(အမေရိကန်ဒေါ်လာ(၆.၅၁)သန်း အပါအဝင် စုစုပေါင်းကျပ် တစ်သောင်း ခုနစ်ထောင် ခုနစ်ရာ ခုနစ်ဆယ့် နှစ်သန်း နှင့် ကိုးသိန်းသုံးသောင်းခန့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၄၅ /၂၀၁၃ (မနသ)
၂၀၁၃ ခုနှစ် မေလ ၁၄ ရက်

၁။ Thuriya Energy Depot Management Co., Ltd. သည် ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါ ဆိပ်ကမ်းဒေသ၊ သန်လျင် - ကျောက်တန်းနယ်မြေ ရှိ မြေကွက်အမှတ် - ၁၇၊ ၁၈(စီ)ရှိ မြေ (၂၄.၇၀) ဧက တွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၀-၅-၂၀၁၃)နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄/၂၀၁၃) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Thuriya Energy Depot Management Co., Ltd. အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၉၀၈ /၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Thuriya Energy Depot Management Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီး မြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ ဝန်ဆောင်မှုလုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀ %)အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစား နိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်

တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် အခြားလုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး မတည် ပစ္စည်းများ အပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Thuriya Energy Depot Management Co., Ltd. သည် ဤ ခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု

ရည်မှန်းချက်များကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Thuriya Energy Depot Management Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ ပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Thuriya Energy Depot Management Co., Ltd. တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ပဋိညာဉ်စာချုပ် နှင့် မြေငှားစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Thuriya Energy Depot Management Co., Ltd. တို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်နှင့် မြေငှား စာချုပ်တို့ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်စီ ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် မြေငှားရမ်းခြင်း သက်တမ်း ကာလမှာ လုပ်ငန်းစတင်သည့် နေ့မှစ၍ နှစ်(၃၀) ဖြစ်သည်။

၉။ Thuriya Energy Depot Management Co., Ltd. သည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ မြေအသုံးချမှု ပရီမီယံကြေး အဖြစ် တစ်ဧကလျှင် ကျပ်(၁၅၀)သိန်း နှုန်းဖြင့် စုစုပေါင်း ကျပ်(၃၇၀.၆၅) သန်း ကို အောက်ပါအတိုင်း ပေးချေရမည် ဖြစ်ပါသည်-

(က) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လ အတွင်း ကျပ် (၁၈၅.၃၂၅)သန်းကို ပေးသွင်းရန်၊

(ခ) စာချုပ် လက်မှတ် ရေးထိုးပြီး တစ်ဆယ့် နှစ်လအတွင်း ကျပ် (၁၈၅.၃၂၅)သန်း ကို ပေးသွင်းရန်၊

၁၀။ Thuriya Energy Depot Management Co., Ltd. သည် အဆောက်အဦများ တည်ဆောက်ပြီးသည် နှင့် လစဉ် မြေငှားရမ်းခ အဖြစ် ကျပ် ၁၃,၃၅၆,၇၅၇ (ကျပ် တစ်ဆယ့်သုံးသန်း သုံးသိန်း ငါးသောင်း ခြောက်ထောင် ခုနှစ်ရာ ငါးဆယ့် ခုနှစ် တိတိ) ကို အင်္ဂလိပ်လဆန်း ၇ ရက် မတိုင်မီ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်သို့ အောက်ပါအတိုင်း ပေးသွင်းရ မည် ဖြစ်ပါသည်-

ကျောထောက်နောက်ခံ မြေနေရာအတွက် မြေငှား ရမ်းခ (၂၄.၇၁ ဧက x ၅၄၀,၅၄၀.၅၄ ကျပ်) ကျပ် ၁၃,၃၅၆,၇၅၇ x 12

160,281,084

160.281

၁၁။ Thuriya Energy Depot Management Co., Ltd. သည် ပေးဆောင်ရမည့် မြေငှားရမ်းခကို ဆိပ်ကမ်း လုပ်ငန်းများ စတင်ဆောင်ရွက်သည့်နေ့ (သို့မဟုတ်) စက်သုံးဆီများ တင်/ချ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်း လုပ်ငန်းများ စတင် ဆောင်ရွက်ရန် လျာထားသည့်နေ့၏ နောက်တစ်နေ့ (၁-၁-၂၀၁၃)နေ့ ထိုနေ့ နှစ်ရပ်အနက် စောရာကာလမှ စတင်ပေးချေရမည် ဖြစ်ပါသည်။

၁၂။ Thuriya Energy Depot Management Co., Ltd. သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် အောက်ပါ အတိုင်း တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်းစီမံကိန်းနယ်မြေနှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝ ပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်းစီမံကိန်းနေရာအား သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေ ဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုး နှင့် စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကိရိယာများ တပ်ဆင်မှု အပါအဝင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် လိုအပ်သော အစီအမံများကို ချမှတ်ဆောင်ရွက်ရမည် ဖြစ်ပါသည်။

၁၃။ Thuriya Energy Depot Management Co., Ltd. သည် ဘဏ်အာမခံကြေး အဖြစ် ရင်းနှီးမြှုပ်နှံမှု၏ (၁) ရာခိုင်နှုန်းကို ပဋိညာဉ်စာချုပ် ချုပ်ဆိုပြီး လေးဆယ့်ငါးရက်အတွင်း တရားဝင် ခွင့်ပြုထားသည့် အစိုးရဘဏ် တစ်ခုခုတွင် ထားရှိရမည်။ ဘဏ်အာမခံ သက်တမ်းသည် (၂)နှစ် အထိ တည်ရှိစေရမည်။

၁၄။ Thuriya Energy Depot Management Co., Ltd. သည် မြေငှားစာချုပ် သက်တမ်း ကုန်ဆုံးချိန် (သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများ အပါအဝင် ဆောက်လုပ်ထားသည့် အဆောက်အဦတို့ကို ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အနေအထား အတိုင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင် သို့ အဖိုးစားနားမဲ့ လွှဲပြောင်းပေးရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Thuriya Energy Depot Management Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်း ခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထား သည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၇။ Thuriya Energy Depot Management Co., Ltd. သည် ဤ ခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ Thuriya Energy Depot Management Co., Ltd. သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ Thuriya Energy Depot Management Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများ မှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၂၁။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း

သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း ၌ ထည့်သွင်းခြင်း ခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၃၀၃ / ၂၀၁၃(၅၃၃၅-ခ)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မေ လ ၁၇ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

ပို့ဆောင်ရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

အုပ်ချုပ်မှု ဒါရိုက်တာ၊ Thuriya Energy Depot Management Co., Ltd.